မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော စတယ်လာစတားကုမ္ပဏီလီမိတက်၏ ကော်မရှင်
အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၄-၇-၂၀၁၅ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | - ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၂-၇-၂၀၁၅ | ၆-၈-၂၀၁၅ | |
| | - ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန | ၂၂-၇-၂၀၁၅ | ၁-၉-၂၀၁၅ | |
| | - စက်မှုဝန်ကြီးဌာန | ၂၂-၇-၂၀၁၅ | ၆-၈-၂၀၁၅ | |
| | - CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ | ၂၂-၇-၂၀၁၅ | ၁၁-၈-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး သို့ တင်ပြခြင်း | ၂၅/၂၀၁၅ (၂၀-၇-၂၀၁၅) | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်း ကုမ္ပဏီသို့ ပြန်ကြားခြင်း | ၂၁-၇-၂၀၁၅ | | |
| ၅ | အဆိုပြုချက် စိစစ်ရေးအဖွဲ့ အစည်းအဝေး ဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားခြင်း | ၂၉-၇-၂၀၁၅ | | |
| ၆ | ကုမ္ပဏီမှ ပြင်ဆင်ပြီး အဆိုပြုလွှာ (၇)စုံ ပေးပို့ခြင်း | ၃၁-၈-၂၀၁၅ | | |
| ၇ | စုစုပေါင်းကြာမြင့်ရက် | (၄၈)ရက် | | |

အကြောင်းအရာ။ စတယ်လာစတားကုမ္ပဏီလီမိတက်မှ Contract Manufacturing Process (CMP)စနစ်ဖြင့် ပလတ်စတစ်အိတ် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းနှင့်စပ်လျဉ်းသည့်အဓိက အချက်အလက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - စတယ်လာစတားကုမ္ပဏီလီမိတက် |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်ခင်ခင်ချို(အဘ-ယိုအွန်လီ (ခ)ဦးစိုးမြင့်) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - စတယ်လာစတားကုမ္ပဏီလီမိတက် (Private Company ဖြစ်ပါသည်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - Contract Manufacturing Process (CMP) စနစ်ဖြင့် ပလတ်စတစ်အိတ် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၄ ။ | လုပ်ငန်းတည်နေရာ | - မြေကွက်အမှတ်-၅၆၊မြေတိုင်းရပ်ကွက်အမှတ်-၄၂၊ ရွှေပြည်သာစက်မှုဇုန်၊ရွှေပြည်သာမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး |
| ၅။ | မြေပိုင်ရှင် | - ဦးစိုးမြင့် |
| | မြေအကျယ်အဝန်း | - ၁.၃၆၄ ဧက (၅,၅၁၉.၉၁၇ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၁၆၀ ပေ x ၁၀၀ ပေရှိ စက်ရုံ အဆောက်အဦ ၁ လုံး |
| | မြေငှားရမ်းကာလ | - ၃ နှစ် |
| | နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခ | - ငှားရမ်းခကိုတစ်လလျှင် ကျပ် ၂,၃၀၀,၀၀၀ (ကျပ်နှစ်ဆယ့်သုံးသိန်း တိတိ) နှုန်းဖြင့် တစ်နှစ်လျှင် ကျပ် ၂၇,၆၀၀,၀၀၀ (ကျပ်နှစ်ရာခုနှစ်ဆယ်ခြောက်သိန်းတိတိ) ဖြစ်ပါသည်။ |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၅၀ နှစ် |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၅၀၀ သန်း (US$ ၀.၀၈၅ သန်းအပါအဝင် ) |
| | ထည့်ဝင်သည့် အမျိုးအစား | **ကျပ်(သန်း)** |
| | ငွေပမာဏ | ၂၉၀.၁၁ |
| | စက်ပစ္စည်းကိရိယာ (ပြည်တွင်း) | ၅၂.၀၀ |
| | စက်ပစ္စည်းကိရိယာ (ပြည်ပ) | ၈၅.၆၀ (US$ ၀.၀၈၅) |
| | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ (ပြည်တွင်း) | ၇.၂၉ |
| | မော်တော်ယာဉ် (ပြည်တွင်း) | ၆၅.၀၀ |
| | **စုစုပေါင်း** | **၅၀၀.၀၀** |
| ၈။ | တည်ဆောက်ရေးကာလ | - (၁)နှစ် |
| ၉။ | ကုမ္ပဏီ၏ဝင်ငွေ (ဆဋ္ဌမနှစ်) | - ကျပ် ၄၅၀.၃၆၀ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ်(ဆဋ္ဌမနှစ်) | - ကျပ် ၃၆၀.၁၆၀ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - ကျပ် ၉၀.၂၀၀ သန်း |
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမနှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၃၃.၃၅၀ သန်း |
| ၁၁။ | အရင်းကြေကာလ | - ၇ နှစ် ၄လ |

| | | |
|---|---|---|
| ၁၂။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၇.၆၂% |
| ၁၃။ | ရောင်းချပုံ နည်းစနစ် | - ၁၀၀% ပြည်ပသို့တင်ပို့မည်ဖြစ်ပါသည်။ |
| ၁၄။ | ထုတ်လုပ်မှုနှင့်CMPလက်ခနှုန်း (၆နှစ်မြောက်) | |

| အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (MT) | CMP လက်ခနှုန်း US $/MT |
|---|---|---|
| Shopping Bag - No.20 | ၁၄၇ | ၂၈၀.၇၈ |
| Shopping Bag - No.15 | ၁၄၇ | ၂၈၀.၇၈ |
| Bottom Seal | ၃၆၇ | ၅၂၃.၂၈ |
| T-Shirt Bag | ၁၈၃ | ၂၈၀.၇၈ |
| Garbage Bag | ၄၄၁ | ၂၈၀.၇၈ |

| | | |
|---|---|---|
| ၁၅။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း | - ၄၁ ဦး (အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၉၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာ ကျပ် ၄၅၀,၀၀၀) |
| ၁၆။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၃၁၅ KVA |
| ၁၇။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ်အသားတင်အမြတ်ငွေ ၏၂% ကို Corporate Social Responsibility အဖြစ်အသုံး ပြုမည်ဖြစ်ကြောင်း တင်ပြထား ပါသည်။ |
| ၁၈။ | မီးဘေးကာကွယ်ရေး အစီအစဉ် | - မီးဘေးကြိုတင်ကာကွယ်ရေးအတွက်စက်ရုံအတွင်းနှင့်အပြင် တွင် ရေပုံး၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဗူးများကို အဆင်သင့် ထားရှိမည်ဖြစ်ကြောင်း၊မီးဘေးကာကွယ်ရေးအတွက်စည်းကမ်း များချမှတ်ထားပြီးဝန်ထမ်းများအားလည်းစည်းကမ်း လိုက်နာ ဆောင်ရွက်ရန် စီမံထားပါကြောင်း၊ အရေးပေါ် မီးဘေး ကာကွယ်ရန် အတွက်မီးသတ်ဆေးဗူးများထားရှိမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများကိုလည်းမီးသတ်နည်းပညာများလေ့ကျင့်သင်ကြား ပေးမည်ဖြစ်ကြောင်း၊လုပ်ငန်းခွင်အတွင်းဆေးလိပ်သောက်ခြင်း ကိုစည်းကမ်းတင်းကြပ်စွာထားရှိမည်ဖြစ်ကြောင်းတင်ပြထားပါသည်။ |
| ၁၉။ | အခြား | - စတယ်လာစတားကုမ္ပဏီလီမိတက်၏ ကုမ္ပဏီ မှတ်ပုံတင် အထောက်အထား၊ ပုံစံ ၆ ၊ ပုံစံ ၂၆၊ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းများကိုတင်ပြထားပါသည်။<br>- ငွေရေးကြေးရေးအထောက်အထားအဖြစ် စတယ်လာ စတား ကုမ္ပဏီလီမိတက်သည် ၇-၇-၂၀၁၅ရက်စွဲဖြင့် ကမ္ဘောဇဘဏ် တွင်ကျပ်၁၁၀,၀၉၉,၉၅၀နှင့်မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်း ရောင်းဝယ်ရေးဘဏ်တွင် US$ ၄၂,၀၉၉ ရှိကြောင်း အထောက်အထား များအား တင်ပြထားပါ သည်။<br>- မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက် ထားလာပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - စတယ်လာစတားကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - Contract Manufacturing Process (CMP) စနစ်ဖြင့် ပလတ်စတစ်အိတ်အမျိုးမျိုးထုတ်လုပ်ခြင်း လုပ်ငန်း |
| တည်နေရာ | - မြေကွက်အမှတ်-၅၆၊ မြေတိုင်းရပ်ကွက် အမှတ်-၄၂၊ ရွှေပြည်သာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး ရှိ မြေဧရိယာ ၁.၃၆၄ဧက (၅,၅၁၉.၉၁၇ စတုရန်းမီတာ) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၅၀၀.၀၀၀ သန်း(US$ ၀.၀၈၅ သန်း အပါအဝင်) |
| အရင်းကြေကာလ | - ၇ နှစ် ၄ လ |
| IRR | - ၇.၆၂ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၁.၆၈၀(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၈၅.၀၀၀ | - |
| ၄ | ဝင်ငွေခွန် | ၃၃.၆၁၀ | ၁၅၈.၉၁၀ |
| ၅ | လျှပ်စစ်မီးသုံးစွဲခ | - | ၃၆၆.၆၅ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ် ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း(၈)ဦး |
| ၇ | CSR (၂%) | - | ၉.၅၃၀ |
| ၈ | မြေငှားရမ်းခရငွေ | - | ၁၃၈.၀၀၀ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း (၄၁) ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| | | ကျပ် ၁၂၀.၂၉၀ သန်း | ကျပ် ၆၇၄.၂၅၅ သန်း |
| | Cost : Benefit | ၁ : ၆ | |

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၃/မ-၁၂၂၆/၂၀၁၅( ၁၂ ၂၀ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၆/ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ **စတယ်လာစတားကုမ္ပဏီလီမိတက်မှ Contract Manufacturing Process (CMP)စနစ်ဖြင့် ပလတ်စတစ်အိတ် အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ စတယ်လာစတားကုမ္ပဏီလီမိတက်သည် မြေကွက်အမှတ်-၅၆၊မြေတိုင်းရပ်ကွက်အမှတ်-၄၂၊ ရွှေပြည်သာစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၃၆၄ ဧက (၅,၅၁၉.၉၁၇ စတုရန်းမီတာ) ပေါ်ရှိ မြေနှင့်အဆောက်အဦအား ငှားရမ်း၍ Contract Manufacturing Process (CMP) စနစ်ဖြင့် ပလတ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ခင်ခင်ချို (အဘ-ယိုအွန်လီ (ခ)ဦးစိုးမြင့်) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ဦးစိုးမြင့်၏ မြေနှင့် အဆောက်အဦအား ငှားရမ်း ဆောင်ရွက် မည်ဖြစ်ပြီး ၁၆၀ ပေ x ၁၀၀ ပေရှိ စက်ရုံ အဆောက်အဦ ၁ လုံး ပါဝင်ပါသည်။ စတယ်လာ စတား ကုမ္ပဏီလီမိတက်သည် မြေနှင့် အဆောက်အဦအား ကနဦး (၃) နှစ် ဖြင့် ငှားရမ်း ပြီး ၃ နှစ်ပြည့်ပြီး ထပ်မံ ငှားရမ်းလိုပါက ပိုင်ရှင်ဖြစ်သူနှင့် ငှားရမ်းသူတို့ နှစ်ဦး နှစ်ဖက်ညှိနှိုင်း၍ ငှားရမ်းကာလ ၃ နှစ်မပြည့်မီ ၃ လကြိုတင်၍ စာချုပ် ချုပ်ဆိုရမည်ဖြစ်ပြီး၊ ငှားရမ်းခကို တစ်လလျှင် ကျပ် ၂,၃၀၀,၀၀၀(ကျပ်နှစ်ဆယ့်သုံးသိန်းတိတိ) နှုန်းဖြင့် တစ်နှစ်အတွက် ကျပ် ၂၇,၆၀၀,၀၀၀ (ကျပ် နှစ်ရာခုနှစ်ဆယ့်ခြောက်သိန်းတိတိ)ပေးချေရမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ စတယ်လာ စတား ကုမ္ပဏီလီမိတက် အနေဖြင့် Contract Manufacturing Process (CMP) စနစ်ဖြင့် ဆောင်ရွက်ရန် ဟောင်ကောင်ရှိ Forever Honour Ltd. နှင့် စတယ်လာစတား ကုမ္ပဏီ လီမိတက် (Stellar Star Co., Ltd.) တို့ချုပ်ဆိုထားသည့် (CMP Agreement) အား တင်ပြထားပါသည်။

ကန့်သတ်

၃။ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုပမာဏမှာ စုစုပေါင်း ကျပ် ၅၀၀.၀၀၀ သန်း (ပြည်ပဝယ် စက်ပစ္စည်းတန်ဖိုး US$ ၀.၀၈၅ သန်း အပါအဝင်) ဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ငွေပမာဏ | ၂၉၀.၁၁ |
| (ခ) | စက်ပစ္စည်းကိရိယာ (ပြည်တွင်း) | ၅၂.၀၀ |
| (ဂ) | စက်ပစ္စည်းကိရိယာ (ပြည်ပ) | ၈၅.၆၀ |
| (ဃ) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ(ပြည်တွင်း) | ၇.၂၉ |
| (င) | မော်တော်ယာဉ် (ပြည်တွင်း) | ၆၅.၀၀ |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **၅၀၀.၀၀** |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၄၁ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၉၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာ မှာ ကျပ် ၄၅၀,၀၀၀ ဖြစ်ပါ သည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ပလတ်စတစ်များကို ၁၀၀% ပြည်ပသို့ တင်ပို့မည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှု နှင့် CMP လက်ခနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **အမျိုးအစား** | **ထုတ်လုပ်မှုအရေအတွက် (MT)** | **CMP လက်ခနှုန်း US $/MT** |
|---|---|---|
| Shopping Bag - No.20 | ၁၄၇ | ၂၈၀.၇၈ |
| Shopping Bag - No.15 | ၁၄၇ | ၂၈၀.၇၈ |
| Bottom Seal | ၃၆၇ | ၅၂၃.၂၈ |
| T-Shirt Bag | ၁၈၃ | ၂၈၀.၇၈ |
| Garbage Bag | ၄၄၁ | ၂၈၀.၇၈ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ၆-နှစ်မြောက်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံး စရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | စဉ် | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄၅၀.၃၆၀ |
| (ခ) | အသုံးစရိတ် | ၃၆၀.၁၆၀ |
| (ဂ) | အသားတင်အမြတ် | ၉၀.၂၀၀ |

မှတ်ချက်။ အမေရိကန်တစ်ဒေါ်လာလျှင် ၁,၀၀၀ ကျပ်နှုန်း ဖြင့်တွက်ချက်ထားပါသည်။

၇။ နိုင်ငံတော်မှ ၆-နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၃၀.၀၇ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြု လုပ်ငန်း၏ အရင်းကြေကာလမှာ ၇ နှစ် ၄ လ ဖြစ်ပြီး အရင်းအနှီး အပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း (IRR) မှာ ၇.၆၂ % ဖြစ်ပါသည်။

၈။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ စက်မှုဝန်ကြီးဌာနနှင့် CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ၂၀၁၅ခုနှစ် ဇူလိုင်လ ၃၀ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၃၅/၂၀၁၅၊ ဆုံးဖြတ်ချက်အပိုဒ် ၁၄ အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်-

(၁) လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန် စီမံကိန်းများ ချမှတ်ခြင်း၊ ထုတ်လုပ်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် စနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ဖော်ပြထား သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR)အား အသားတင် အမြတ်ငွေ၏ ၂% ထည့်ဝင်ရန် အပါအဝင် ကတိကဝတ်များ၊လုပ်ငန်းစီမံချက်များအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(၂) ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအား ပြန်လည်ပြုပြင် အသုံးပြုရန်၊ စွန့်ပစ်ပါကလည်း ပြန်လည်သန့်စင်ပြီးမှ စနစ်တကျ စွန့်ပစ်သွားရန်နှင့် လုပ်ငန်းခွင် အန္တရာယ် ကင်းရှင်းရေးအတွက် အလုပ်သမားများအား လုပ်ငန်းခွင်သုံး အကာအကွယ် ပစ္စည်းများ ဝတ်ဆင်/တပ်ဆင် ဆောင်ရွက်စေရန်၊

(၃) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုနှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး(သို့မဟုတ်) အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination) ဆောင်ရွက်ပြီး IEE အစီရင်ခံစာ တင်ပြရန်၊

(၄) အဆိုပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက် လုပ်ငန်း ဆောင်ရွက် မည့် အစီအစဉ်၊စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊စည်းမျဉ်းစည်းကမ်းများနှင့်အညီလိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်။ **ကုမ္ပဏီမှ သဘောထားမှတ်ချက် နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း** နှင့် **E Guard Environmental Services Company Limited မှ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examnination** နှင့် **ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP)** ရေးဆွဲ ဆောင်ရွက်လျက် **ရှိပါကြောင်း တင်ပြထားပါသည်။** **(နောက်ဆက်တွဲ - ခ)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်း အသုံးပြုများကို လျှပ်စစ်ဥပဒေ နှင့်အညီ အသုံးမပြုမီစစ်ဆေးဆောင်ရွက်ရန်လိုအပ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေ နှင့် အညီ **စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ကြောင်း၊** ကုန်ကြမ်းသုံးစွဲမည့် ပမာဏ သင့်လျော်မှု ရှိကြောင်းနှင့် အသုံးပြုမည့် စက်ပစ္စည်းများ စာရင်း သင့်လျော်မှု ရှိပါကြောင်းပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ဂ)**

(ဃ) **CMPလုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီမှ** ကုန်ကြမ်းလိုအပ်ချက် ကိုက်ညီမှုရှိကြောင်း၊ CMP လက်ခနှုန်းထားများ ဆီလျော်မှု ရှိကြောင်း၊ ထုတ်လုပ်မှုအင်အား၊ စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မှု ရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ဃ)**

၉။ စတယ်လာစတား ကုမ္ပဏီ လီမိတက်သည် ၇-၇-၂၀၁၅ ရက်စွဲဖြင့် ကမ္ဘောဇဘဏ်တွင် ကျပ် ၁၁၀,၀၉၉,၉၅၀ နှင့် မြန်မာ့ရင်းနှီးမြုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်တွင် US$ ၄၂,၀၉၉ ရှိကြောင်း အထောက်အထား များအား တင်ပြထားပါ သည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှမည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့်စည်းကမ်းချက်များကိုလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ မီးဘေးကြိုတင်ကာကွယ်မှုအတွက် စက်ရုံအတွင်းနှင့်အပြင် တွင် ရေပုံးမီးကပ်၊ သဲအိတ်၊ မီးသတ်ဗူးများကို အဆင်သင့် ထားရှိမည်ဖြစ်ကြောင်း၊မီးဘေးကာကွယ်ရေးအတွက်စည်းကမ်းများ ချမှတ်ထားပြီးဝန်ထမ်းများအားလည်းစည်းကမ်း လိုက်နာ ဆောင်ရွက်ရန် စီမံထားပါကြောင်း၊ အရေးပေါ်မီးဘေး ကာကွယ်ရန် အတွက်မီးသတ်ဆေးဗူးများထားရှိမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများကိုလည်း မီးသတ် နည်းပညာများလေ့ကျင့်သင်ကြား ပေးမည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်အတွင်း ဆေးလိပ်သောက်ခြင်းကို စည်းကမ်းတင်းကြပ်စွာ ထားရှိမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရာတွင် ပြည်တွင်းရှိ အတတ်ပညာရှင်များ၊ ရုံးဝန်ထမ်းများ၊ ထုတ်လုပ်ရေး ဝန်ထမ်းများခန့်အပ်၍ ဆောင်ရွက်မည်ဖြစ်ပြီး ထိုဝန်ထမ်းများ လုပ်ငန်းခွင် သာယာရေး အနေဖြင့် နေ့ထူးနေ့မြတ်များတွင် အားကစားပြိုင်ပွဲများ၊ ပျော်ပွဲရွှင်ပွဲများ ပြုလုပ်ပေးခြင်း၊ ပညာဗဟုသုတ များ တိုးတက်စေရန် ပညာပေးဟောပြောပွဲများ အခါအားလျော်စွာ စီစဉ် ဆောင်ရွက် ပေးခြင်း၊ လုပ်ငန်း ဆောင်ရွက်မှုအလိုက် ထူးချွန်ဆု ချီးမြှင့်ပေးခြင်းများ စသည်တို့ကို ပြုလုပ် ပေးသွားမည် ဖြစ်ကြောင်း၊ ဝန်ထမ်းများ နာမကျန်းဖြစ်ပါက အရေးပေါ် ကုသ နိုင်ရေးအတွက် ဆေးနှင့် အထောက်အကူပြု ပစ္စည်းများကိုလည်း စက်ရုံတွင် ထားရှိမည့်အပြင် လူမှု ဖူလုံကြေးများ ကို ထည့်ဝင်ကာ လူမှုဖူလုံရေးအတွက် အပြည့်အဝ ဆောင်ရွက်ပေးသွားမည် ဖြစ်ကြောင်း၊ ကျသင့် သော ဝင်ငွေခွန်များကိုလည်း ပေးဆောင်မည်ဖြစ်ကြောင်း၊ စက်ရုံအတွင်း သန့်ရှင်းမှု ရှိစေရန် အမှိုက်များကို စနစ်တကျ စွန့်ပစ်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို အစိုးရ၏ မဟာဓါတ်အားလိုင်းမှ ရယူ သုံးစွဲမည်ဖြစ်ပြီး မဟာဓါတ်အားလိုင်းမှ မီးမရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက် Generator (220 KVA)(၁)လုံးဖြင့် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှတင်ပြထားပါသည်။

၁၃။ စတယ်လာစတား ကုမ္ပဏီ လီမိတက် မှ မြန်မာနိုင်ငံတော်ရှိ လူ့အဖွဲ့အစည်းများ၏ လူမှုရေး လှုပ်ရှား ဆောင်ရွက်မှုများအတွက် နှစ်စဉ်အမြတ်ငွေ၏ ၂% အား CSR ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲ မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၂၀ ရက်နေ့တွင် ကျင်းပသော ၂၅/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း ၁၁၊ ပုဒ်မ ၂၀ (က၊ ဂ၊ ဃ၊ စ၊ဆ၊ ဇ၊ ဈ၊ ည၊ ဋ) တို့အရ အခွန်ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင် မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ စတယ်လာစတား ကုမ္ပဏီ လီမိတက် သည် မြေကွက်အမှတ်-၅၆၊မြေတိုင်းရပ်ကွက်အမှတ်-၄၂ ရွှေပြည်သာစက်မှုဇုန်၊ရွှေပြည်သာမြို့နယ်၊ရန်ကုန်တိုင်း ဒေသကြီးရှိ ၁.၃၆၄ ဧက (၅,၅၁၉.၉၁၇ စတုရန်းမီတာ) ပေါ်ရှိ မြေနှင့်အဆောက်အဦအား ငှားရမ်း၍ Contract Manufacturing Process (CMP) စနစ်ဖြင့် ပလတ်စတစ် အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘော တူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / ဘဏ္ဍာ
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ သြဂုတ် လ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂. ၇. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃/ မ-၁၂၂၆ / ၂၀၁၅ (၉၅၄)

၁။ စတယ်လာစတားကုမ္ပဏီလီမိတက်သည် မြေကွက်အမှတ်-၁၆၊ မြေတိုင်းရပ်ကွက်အမှတ်-၄၂၊ ရွှေပြည်သာစက်မှုဇုန်(၁)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် မြေဧရိယာ ၁. ၃၆၄ ဧက (၅၅၁၉. ၉၁၇ စတုရန်းမီတာ)အား ငှားရမ်း၍ Contract Manufacturing Process (CMP) စနစ်ဖြင့် ပလတ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၈၁)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် မြေကွက်အမှတ်-၁၆၊ မြေတိုင်းရပ်ကွက်အမှတ်-၄၂၊ ရွှေပြည်သာ စက်မှုဇုန်(၁)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် မြေဧရိယာ ၁. ၃၆၄ ဧက (၅၅၁၉. ၉၁၇ စတုရန်းမီတာ)အား တစ်စတုရန်းမီတာလျှင် တစ်နှစ်အတွက် USD 5.000075 နှုန်းဖြင့် ကနဦး (၃)နှစ် ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါ သည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/Cabinet/35.(1)

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၃၀. ၇. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၅/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၄)အရ စတယ်လာစတားကုမ္ပဏီလီမိတက် ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးဘဏ္ဍာရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရွှေပြည်သာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
စတယ်လာစတားကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/35.(7)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ် ၃(၂)/၁၆(စ)(၆)/( ၂၁၈၉ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ စက်တင်ဘာလ ၇ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂ - ၇ - ၂၀၁၅ ရက်စွဲပါစာအမှတ် ၊ ရက - ၃ / မ - ၁၂၂၆ / ၂၀၁၅ ( ၉၅၆ )

၁။ စတယ်လာစတား ကုမ္ပဏီလီမိတက်မှ မြေကွက်အမှတ်- ၅၆ ၊ မြေတိုင်းရပ်ကွက်အမှတ်- ၄၂ ၊ စက်မှုဒေသ ၊ ရွှေပြည်သာမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီးတွင် မြေဧရိယာ (၁.၃၆၄ ) ဧက ( ၅၅၁၉.၉၁၇ စတုရန်းမီတာ ) အား ငှားရမ်း၍ Contract Manufacturing Process (CMP) စနစ်ဖြင့် ပလတ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပလတ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းမှ ထွက်ရှိလာသော ပလတ်စတစ် ဖြတ်စများကြောင့် ပတ်ဝန်းကျင်ကို ထိခိုက်စေနိုင်ခြင်း ၊ ပလတ်စတစ်အိတ် ပြုလုပ်ရာတွင် မီးအပူပေး ဆောင်ရွက်ရခြင်းကြောင့် အနံ့အသက်များ ထွက်ရှိပြီး လေထု ညစ်ညမ်းမှုကို ဖြစ်ပေါ်နိုင်ခြင်းနှင့်ဓာတုပစ္စည်းဖြစ်သော မှင် (Ink) အား ကုန်ကြမ်းအဖြစ် အသုံးပြုခြင်းကြောင့် အလုပ်သမားများအား အန္တရာယ် ဖြစ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ စတယ်လာစတားကုမ္ပဏီလီမိတက်မှ ပလတ်စတစ်အိတ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် နှင့် ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန် စီမံကိန်းများ ချမှတ်ခြင်း ၊ ထုတ်လုပ်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် စနစ်များ ၊ စက်ပစ္စည်းများကို အသုံးပြုခြင်း နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု ( CSR) အား အသားတင်အမြတ်ငွေ၏ ၂% ထည့်ဝင်ရန်အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအား ပြန်လည်ပြုပြင် အသုံးပြုရန် ၊ စွန့်ပစ်ပါကလည်း ပြန်လည်သန့်စင်ပြီးမှ စနစ်တကျ စွန့်ပစ်သွားရန် နှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေးအတွက် အလုပ်သမားများအား လုပ်ငန်းခွင်သုံး အကာအကွယ်ပစ္စည်းများ ဝတ်ဆင် / တပ်ဆင် ဆောင်ရွက်စေရန်၊

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး ( သို့မဟုတ် ) အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း ( Initial Environmental Examination ) ဆောင်ရွက်ပြီး IEE အစီရင်ခံစာ တင်ပြရန်၊

(ဃ) အဆိုပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင် နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန်အတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် ၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေးအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(င) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်း ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(စ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့များ၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆(၁၄၉၃)

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၆ ရက်

UPT-3568
7.8.15

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

1499
10/8/15

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂.၇.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၂၂၆/ ၂၀၁၅ (၉၅၅)

၁။ စတယ်လာစတားကုမ္ပဏီလီမိတက်မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဒေသ၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂)၊ မြေကွက်အမှတ်(၅၆)တွင် CMP စနစ်ဖြင့် ပလတ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် ပလတ်စတစ်အိတ် အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ချမှတ်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းသုံးစွဲမည့်ပမာဏ သင့်လျော်မှု ရှိပါသည်။

(စ) အသုံးပြုမည့်စက်ပစ္စည်းများစာရင်း သင့်လျော်မှု ရှိပါသည်။

၃။ သို့ပါ၍ စတယ်လာစတားကုမ္ပဏီလီမိတက်မှ ပလတ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲ ဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄-အလ/ခွဲ(၂)၂၀၁၅( ၁၀၆၃ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၁၁ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Stellar Star Company Limited မှ CMP စနစ်ဖြင့် ပလပ်စတစ် အိတ်အမျိုးမျိုးထုတ်လုပ်ခြင်း လုပ်ငန်း သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၇-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက- ၃/မ- ၁၂၂၆/၂၀၁၅(၉၅၇)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဒေသ၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂) ၊ မြေကွက်အမှတ် (၅၆) ရှိ Contract Manufacturing Process က မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ CMP စနစ်ဖြင့် ပလပ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် တင်ပြမှုအပေါ် CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့၊ ဥက္ကဋ္ဌ၊ အလုပ်ရုံနှင့် အလုပ်သမားဥပဒေ စစ်ဆေးရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ် ဦးဝင်းရှိန်နှင့် ရာဘာပစ္စည်းစက်ရုံ၊ လက်ထောက်အထွေထွေမန်နေဂျာ ဒေါ်နှင်းယဉ်လှတို့သည် ၃၀-၇-၂၀၁၅ ရက်နေ့တွင် စက်ရုံသို့သွားရောက်၍ စစ်ဆေးခဲ့ပါသည်။

၂။ Stellar Star Company Limited ၏ အဆိုပြုချက်အပေါ် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) **C.M.P ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

အဆိုပြုစာတမ်းတွင် ပလပ်စတစ်အိတ်အမျိုးအစား (၅)မျိုး ထုတ်လုပ်ဆောင်ရွက်ရန် ကုန်ကြမ်းအမျိုးအစား(၆)မျိုး သုံးစွဲမည်ဖြစ်ပြီး ပထမနှစ်ထုတ်လုပ်မည့်ကုန်ချောအရေအတွက် ပေါ်မူတည်၍ Unit Norm အရ အဆိုပြုကုန်ကြမ်း လိုအပ်ချက်နှင့် တွက်ချက်မှုအရ ကုန်ကြမ်းလိုအပ်ချက်မှာ ကိုက်ညီမှုရှိပါသည်။

(ခ) **C.M.Pလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ**

First Year Production

| | | | | |
|---|---|---|---|---|
| (A) | Total Income | = | **276.48** | ကျပ်သန်း |
| (B) | Expenditure Cost | | | |
| | (1) Salary & Wages | = | 63.12 | ကျပ်သန်း |
| | (2) Electricity Expenses | = | 57.46 | ကျပ်သန်း |

| | | | | |
|---|---|---|---|---|
| (3) | Fuel Expenses | = | 27.98 | ကျပ်သန်း |
| (4) | Administration Expenses | = | 69.12 | ကျပ်သန်း |
| (5) | Repair & Maintenance Expenses | = | 13.82 | ကျပ်သန်း |
| (6) | Land Rental Fee | = | 27.60 | ကျပ်သန်း |
| (7) | Depreciation | = | 22.25 | ကျပ်သန်း |
| | **Total Expenditure Cost** | = | **281.35** | **ကျပ်သန်း** |
| (c) | **Net Profit** | = | **4.87** | **ကျပ်သန်း** |

**Second Year Production**

| | | | | |
|---|---|---|---|---|
| (A) | **Total Income** | = | **304.82** | **ကျပ်သန်း** |
| (B) | **Expenditure Cost** | | | |
| (1) | Salary & Wages | = | 102.44 | ကျပ်သန်း |
| (2) | Electricity Expenses | = | 60.33 | ကျပ်သန်း |
| (3) | Fuel Expenses | = | 29.38 | ကျပ်သန်း |
| (4) | Administration Expenses | = | 39.12 | ကျပ်သန်း |
| (5) | Repair & Maintenance Expenses | = | 13.82 | ကျပ်သန်း |
| (6) | Land Rental Fee | = | 27.60 | ကျပ်သန်း |
| (7) | Depreciation | = | 22.25 | ကျပ်သန်း |
| | **Total Expenditure Cost** | = | **294.94** | **ကျပ်သန်း** |
| (c) | **Net Profit** | = | **9.88** | **ကျပ်သန်း** |

ပထမနှစ်တွင် ထုတ်လုပ်မှုနည်းပြီး အသုံးစရိတ်မြင့်မှုကြောင့် အရှုံးပေါ်နေပြီး ဒုတိယနှစ်မှစ၍ ထုတ်လုပ်မှုတိုးသည့်ပြင် လက်ခနှုန်းထားတိုးမြင့်လာမှုကြောင့် အမြတ်ရရှိသည့်အတွက် CMP လက်ခနှုန်းထားများ ဆီလျော်မှုရှိပါသည်။

**(ဂ) နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ**

အဆိုပြုချက်တွင် ထုတ်လုပ်မည့် ပလပ်စတစ်အိတ်အမျိုးအစား(၅)မျိုးအတွက် စက်အမျိုးအစား ၁၆ လုံးနှင့် မန်နေဂျာအပါအဝင် ထုတ်လုပ်မှုဝန်ထမ်း ၄၁ ဦးနှင့် ပထမနှစ် ထုတ်လုပ်မှုကို တစ်နေ့တစ်ဆိုင်းနှုန်းဖြင့် လည်ပတ်မည်ဖြစ်ပြီး တပ်ဆင်ထားသည့် စက်များ၏ စွမ်းအား၊ ကျွမ်းကျင်ဝန်ထမ်းများဖြစ်လာသောကြောင့် ဒုတိယနှစ်မှစ၍ ထုတ်လုပ်မှုတိုးမြှင့် လုပ်ဆောင်ပြီး ဝန်ထမ်းသစ်များလည်း တိုးမြှင့်ခန့်ထားမည်ဖြစ်ကြောင်း သိရှိရ၍ ထုတ်လုပ်မှုအင်အား၊ စက်အင်အား၊ လူအင်အား အချိုးအစားညီညွတ်မှုရှိပါသည်။

၃။ သို့ဖြစ်ပါ၍ Stellar Star Company Limited ကို ခွင့်ပြုသင့်ပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲမှုလျော့ချရေးကို အထောက်အကူပြုနိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် ပလပ်စတစ် အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်းလုပ်ကိုင်ခွင့်ကိုအားပေးဆောင်ရွက်သင့်ကြောင်း တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ထင်အောင်၊ အတွင်းရေးမှူး)
(ဒုတိယဝန်ကြီး၊အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို
အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
(CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
Stellar Star Company Limited
ရုံးလက်ခံ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း
မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ပလပ်စတစ်အိတ် အမျိုးမျိုး
# ထုတ်လုပ်ခြင်းလုပ်ငန်း
# ဆောင်ရွက်ရန်အတွက်
# (စီ အမ် ပီ စနစ်ဖြင့်)

ရင်းနှီးမြှုပ်နှံလိုသူ၏
လုပ်ငန်းအဆိုပြုချက်

"စတယ်လာစတား ကုမ္ပဏီ လီမိတက်"

# မာတိကာ

၁၉။ နိုင်ငံတော်အားထည့်ဝင်မည့် အခွန်ပြဇယား

၂၀။ နှစ်စဉ်ကုန်ကြမ်း လိုအပ်ချက် (နောက်ဆက်တွဲ -၁)

၂၁။ ကုန်ပစ္စည်းအလိုက် တစ်ခုချင်းလိုအပ်မည့် ကုန်ကြမ်းပမာဏ (နောက်ဆက်တွဲ - ၂ )

၂၂။ လုပ်ငန်းသဘောသဘာဝ

၂၃။ ရေ နှင့် လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့်အစီအစဉ်

၂၄။ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်

၂၅။ အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေ

၂၆။ လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်

၂၇။ ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်းဝန်ခံကတိပြုခြင်း

၂၈။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်

၂၉။ စက်ရုံအဆောက်အဦး နှင့် မြေငှားရမ်းခြင်းအတွက်စာချုပ် (မူကြမ်း)

၃၀။ ငှားရမ်းမည့်မြေ၏ မြေဂရန်

၃၁။ စက်ရုံဓါတ်ပုံ

၃၂။ ထုတ်လုပ်မည့်ပစ္စည်း နမူနာများ

၃၃။ ကုန်ကြမ်းပစ္စည်း နမူနာများ

၃၄။ ပလပ်စတစ်အိတ် ထုတ်လုပ်ပုံအဆင့်ဆင့်

၃၅။ CMP ကုန်မှာ စာချုပ်

၃၆။ နိုင်ငံသားစီစစ်ရေးကဒ်များ (မိတ္တူ)

၃၇။ စတယ်လာ စတား ကုမ္ပဏီလီမိတက်၏ မှတ်ပုံတင် (မိတ္တူ)

၃၈။ စတယ်လာ စတား ကုမ္ပဏီလီမိတက်၏ ရုံးခန်းလိပ်စာပြောင်းခြင်းအတွက် CRD (မိတ္တူ)

၃၉။ စတယ်လာ စတား ကုမ္ပဏီလီမိတက်၏ ပုံစံ(၆) နှင့် ပုံစံ(၂၆) (မိတ္တူ)

၄၀။ ငွေကြေးအထောက်အထားများ (မိတ္တူ)

၄၁။ သင်းဖွဲ့မှတ်တမ်း သင်းဖွဲ့စည်းမျဉ်း (မူကြမ်း)

**STELLAR STAR COMPANY LIMITED**

Plot No.56, Myay Taing Block No.42, Corner of Sat Hmu (2) Street and Ingyin Myaing Street,
Shwe Pyi Thar Industrial Zone (1), Shwe Pyi Thar Tsp., Yangon Region. Tel: 95-9-7954 06733

---

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ၊ (၁၄) ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။**

လေးစားရပါသောလူကြီးမင်းရှင့် ။ ။

အထက်ပါကြောင်းအရာနှင့်ပတ်သက်၍ ကျွန်မတို့၏ "**စတယ်လာစတား ကုမ္ပဏီ လီမိတက်**" "**STELLAR STAR CO., LTD.**" သည် ဇူလိုင် လ၊ (၁၄) ရက်၊ ၂၀၁၅-ခုနှစ် တွင် "**စီအမ်ပီစနစ်ဖြင့် ပလပ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း**" လုပ်ကိုင်ရန် ရည်ရွယ်ချက်ဖြင့် မြန်မာနိုင်ငံသား ၁၀၀ % ရင်းနှီးမြှုပ်နှံမှုကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ကို တင်ပြလျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ၊ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန် (၁)၊ စက်မှု (၂) လမ်း နှင့် အင်ကြင်းမြိုင်လမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂)၊ မြေကွက်အမှတ် (၅၆) ၏ ဧရိယာ (၁.၃၆၄ ဧက) အကျယ်အဝန်းမြေကွက်ပေါ်ရှိ စက်ရုံတွင် "ပလပ်စတစ်အိတ်အမျိုးမျိုး" ထုတ်လုပ်သောလုပ်ငန်း (Industry for Manufacturing the Variety of Plastic Bags) ကိုပြည်ပမှ ကုန်ကြမ်းပစ္စည်းများတင်သွင်း၍ (CMP) လက်ခစားစနစ်ဖြင့်ထုတ်လုပ်ပြီး နိုင်ငံခြားသို့ ပြန်လည်တင်ပို့နိုင်ရန် အဆင့်မြင့်နည်းပညာများ၊ ခေတ်မီစက်ကိရိယာများဖြင့် ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့ တင်ပြလျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

ရှိသေလေးစားစွာဖြင့်
လျှောက်ထားသူ

**ဒေါ်ခင်ခင်ချို**
မန်နေးဂျင်းဒါရိုက်တာ
**စတယ်လာစတား ကုမ္ပဏီ လီမိတက်**

# STELLAR STAR COMPANY LIMITED

Plot No.56, Myay Taing Block No.42, Corner of Sat Hmu (2) Street and Ingyin Myaing Street,
Shwe Pyi Thar Industrial Zone (1), Shwe Pyi Thar Tsp., Yangon Region. Tel: 95-9-7954 06733


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ၊ (၁၄) ရက်။

အကြောင်းအရာ။ **။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၂၀ တို့အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားခြင်း။**

လေးစားရပါသောလူကြီးမင်းရှင့် ။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်မတို့၏ "**စတယ်လာစတား ကုမ္ပဏီ လီမိတက်**" "STELLAR STAR CO., LTD." သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန် (၁)၊ စက်မှု (၂) လမ်း နှင့် အင်ကြင်းမြိုင်လမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂)၊ မြေကွက်အမှတ် (၅၆) ၏ ဧရိယာ (၁.၃၆၄ ဧက) အကျယ်အဝန်း မြေကွက်ပေါ်ရှိ စက်ရုံတွင် "ပလပ်စတစ်အိတ်အမျိုးမျိုး" ထုတ်လုပ်သောလုပ်ငန်း (Industry for Manufacturing the Variety of Plastic Bags) ကို ပြည်ပမှ ကုန်ကြမ်းပစ္စည်းများ တင်သွင်း၍ (CMP) လက်ခစားစနစ်ဖြင့် ထုတ်လုပ်ပြီး နိုင်ငံခြားသို့ပြန်လည်တင်ပို့နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုလွှာပေးပို့ တင်ပြလျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကျွန်မတို့၏ကုမ္ပဏီသည် "**စီအမ်ပီစနစ်ဖြင့် ပလပ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း**" လုပ်ကိုင်ရန်အတွက် မတည်ရင်းနှီးငွေကို မြန်မာကျပ်ငွေ (၂,၀၀၀,၀၀၀,၀၀၀.၀၀) ထားရှိကာ ကနဦးရင်းနှီးမြှုပ်နှံခြင်း မြန်မာကျပ်ငွေ (၅၀၀,၀၀၀,၀၀၀.၀၀) တွင် စက်ပစ္စည်းတန်ဖိုး၊ ပရိဘောဂ တန်ဖိုး၊ မော်တော်ယာဉ်တန်ဖိုးအပြင် ငွေကြေးအားဖြင့် ရင်းနှီးမြှုပ်နှံမှု မြန်မာကျပ်ငွေ (၂၉၀,၁၁၀,၀၀၀.၀၀) လည်းပါဝင်ပါသည်။ ထပ်မံ၍လိုအပ်သည့် စက်ပစ္စည်းများကိုလည်း ခွင့်ပြုမိန့် ထပ်မံတောင်းခံ၍ တင်သွင်းမည် ဖြစ်ပါသည်။

၃။ ကျွန်မတို့၏ ထုတ်လုပ်မှုလုပ်ငန်းအတွက် လိုအပ်သောဝန်ထမ်းများကို ပြည်တွင်းရှိ အတတ်ပညာရှင်များကို အသုံးပြုထုတ်လုပ်သွားမည် ဖြစ်ပါသည်။ ထုတ်လုပ်ရရှိသော ကုန်ပစ္စည်းများကိုလည်း ပြည်ပသို့ ပြန်လည်တင်ပို့ရောင်းချသွားမည်ဖြစ်ပါသည်။

**STELLAR STAR COMPANY LIMITED**

Plot No.56, Myay Taing Block No.42, Corner of Sat Hmu (2) Street and Ingyin Myaing Street,
Shwe Pyi Thar Industrial Zone (1), Shwe Pyi Thar Tsp., Yangon Region. Tel: 95-9-7954 06733

၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများရရှိစေရန်အတွက်လည်းကောင်း ကျွန်မတို့ကုမ္ပဏီ၏ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများ၊ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၂၀) တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပေးအပ်ပါရန် ရှိသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

၅။ ထို့အပြင် ပလပ်စတစ်အိတ်အမျိုးမျိုးထုတ်လုပ်သည့်လုပ်ငန်းမှ ရရှိလာသော ပထမ(၅)နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန် နှင့် ဝင်ငွေခွန်တို့ကို သက်သာခွင့်ပြုရန်အတွက် ဘဏ္ဍာရေးဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြုပါရန် မေတ္တာရပ်ခံတင်ပြအပ်ပါသည်။

၆။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်များကို ပူးတွဲတင်ပြအပ်ပါသည်။

(၁) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန်အဆိုပြုချက်၊
(၂) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ
(၃) ကုမ္ပဏီသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ(မူကြမ်း)
(၄) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ
(၅) နိုင်ငံတော်မှရရှိမည့်ဘဏ္ဍာရေးအကျိုးအမြတ်တွက်ချက်မှုဇယား

ရှိသေလေးစားစွာဖြင့်
လျှောက်ထားသူ

(signature)

**ဒေါ်ခင်ခင်ချို**
မန်နေးဂျင်းဒါရိုက်တာ
**စတယ်လာစတား ကုမ္ပဏီ လီမိတက်**

**STELLAR STAR COMPANY LIMITED**

Plot No.56, Myay Taing Block No.42, Corner of Sat Hmu (2) Street and Ingyin Myaing Street, Shwe Pyi Thar Industrial Zone (1), Shwe Pyi Thar Tsp., Yangon Region. Tel: 95-9-7954 06733

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၊ (၁၄) ရက်။

အကြောင်းအရာ။ **။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။**

လေးစားရပါသောလူကြီးမင်းရှင့် ။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်မတို့၏ **"စတယ်လာစတား ကုမ္ပဏီ လီမိတက်"** "STELLAR STAR CO., LTD." သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန် (၁)၊ စက်မှု (၂) လမ်း နှင့် အင်ကြင်းမြိုင်လမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂)၊ မြေကွက်အမှတ် (၅၆) ၏ ဧရိယာ (၁.၃၆၄ ဧက) အကျယ်အဝန်းမြေကွက်ပေါ်ရှိ စက်ရုံတွင် "ပလပ်စတစ်အိတ်အမျိုးမျိုး" ထုတ်လုပ်သောလုပ်ငန်း (Industry for Manufacturing the Variety of Plastic Bags) ကို ပြည်ပမှ ကုန်ကြမ်းပစ္စည်းများ တင်သွင်း၍ (CMP) လက်ခစားစနစ်ဖြင့် ထုတ်လုပ်ပြီး နိုင်ငံခြားသို့ပြန်လည်တင်ပို့နိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့ တင်ပြလျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

(က) ၎င်းလုပ်ငန်းသည် မြန်မာနိုင်ငံသား ၁၀၀ % ရင်းနှီးမြှုပ်နှံသောကုမ္ပဏီ ဖြစ်ပါသည်။

(ခ) ၎င်းလုပ်ငန်းသည် နိုင်ငံတော်အတွက် စီးပွားရေးလုပ်ငန်းလုပ်ဆောင်သော အခြေခံစီးပွားရေး လုပ်ငန်းအဆောက်အအုံကို အထောက်အကူပြုသောလုပ်ငန်းဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါ သည်။

(ဂ) ကျွန်မတို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် သဘာဝဘေးအန္တရာယ် ကြိုတင်ကာကွယ်မှုအတွက် လည်း အစီအမံများပြုလုပ်သွားမည့်အပြင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ဥပဒေများ၊ နည်း ဥပဒေစည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(ဃ) **"စတယ်လာစတား ကုမ္ပဏီ လီမိတက်"** "STELLAR STAR CO., LTD." အနေဖြင့် ပြည်ပမှဝယ်ယူတင်သွင်းမည့် စက်ပစ္စည်းများမှာလည်း ကောင်းမွန်သော အရည်အသွေးရှိသော ပစ္စည်းများကိုသာ တင်သွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

**STELLAR STAR COMPANY LIMITED**

Plot No.56, Myay Taing Block No.42, Corner of Sat Hmu (2) Street and Ingyin Myaing Street, Shwe Pyi Thar Industrial Zone (1), Shwe Pyi Thar Tsp., Yangon Region. Tel: 95-9-7954 06733

(င) ဤအဆိုပြုလုပ်ငန်းများဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့်ရရှိသောအခကြေးငွေများကို "မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်" (MFTB) သို့မဟုတ် "မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်" (MICB) သို့မဟုတ် "နိုင်ငံခြားငွေများကို တရားဝင် ရောင်းဝယ်ခွင့်ပြုမိန့်ရရှိထားသော ပုဂ္ဂလိကဘဏ်များ" ၏ ငွေစာရင်းသို့ မပျက်မကွက်ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(စ) ယင်းသို့ပေးသွင်းထားရှိသည့် နိုင်ငံခြားငွေများကို နိုင်ငံတော်မှသတ်မှတ်ခွင့်ပြုထားသည့် နိုင်ငံခြားငွေလဲလှယ်ခြင်းဥပဒေ၊ နည်းဥပဒေများ၊ စည်းမျဉ်းစည်းကမ်းများနှင့် အခါအားလျော်စွာ ပြဌာန်းလာသော ညွှန်ကြားချက်များအတိုင်းလဲလှယ်ပြီး၊ လုပ်ငန်းလိုအပ်ချက်နှင့် မိမိလုပ်ငန်းအတွက် အလုပ်သမားများ၏ လုပ်အားခများအားပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၂။ ထို့အပြင် ကျွန်မတို့၏ "**စတယ်လာစတား ကုမ္ပဏီ လီမိတက်**" "STELLAR STAR CO., LTD." အနေဖြင့် နိုင်ငံတော်အစိုးရမှ ပြဌာန်းထားသော ဥပဒေများ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းဥပဒေများ၊ အမိန့်များ၊ ညွှန်ကြားချက်များနှင့် အခါအားလျော်စွာပြဌာန်းထားသော အမိန့်များ၊ စည်းမျဉ်းစည်းကမ်းများ၊ ညွှန်ကြားချက်များကိုလည်း လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ထပ်ဆင့် ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

လျှောက်ထားသူ

**ဒေါ်ခင်ခင်ချို**

မန်နေးဂျင်းဒါရိုက်တာ

**စတယ်လာစတား ကုမ္ပဏီ လီမိတက်**

STELLAR STAR COMPANY LIMITED
Plot No.56, Myay Taing Block No.42, Corner of Sat Hmu (2) Street and Ingyin Myaing Street,
Shwe Pyi Thar Industrial Zone (1), Shwe Pyi Thar Tsp., Yangon Region. Tel: 95-9-7954 06733

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ၊ (၁၄) ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လူမှုရေးဆိုင်ရာတာဝန်ယူမှုများ (Corporate Social Responsibility - CSR) နှင့် ပတ်သက်၍ လုပ်ဆောင်မည့် အစီအစဉ်များ တင်ပြခြင်း။</u>

လေးစားရပါသောလူကြီးမင်းရှင့် ။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်မတို့၏ **"စတယ်လာစတား ကုမ္ပဏီ လီမိတက်"** "STELLAR STAR CO., LTD." သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန် (၁)၊ စက်မှု (၂) လမ်း နှင့် အင်ကြင်းမြိုင်လမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂)၊ မြေကွက်အမှတ် (၅၆) ၏ ဧရိယာ (၁.၃၆၄ ဧက) အကျယ်အဝန်း မြေကွက်ပေါ်ရှိ စက်ရုံတွင် "ပလပ်စတစ်အိတ်အမျိုးမျိုး" ထုတ်လုပ်သောလုပ်ငန်း (Industry for Manufacturing the Variety of Plastic Bags) ကို ပြည်ပမှ ကုန်ကြမ်းပစ္စည်းများ တင်သွင်း၍ (CMP) လက်ခစားစနစ်ဖြင့်ထုတ်လုပ်ပြီး နိုင်ငံခြားသို့ပြန်လည်တင်ပို့နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့ တင်ပြလျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကျွန်မတို့ ကုမ္ပဏီ၏ လူမှုရေးဆိုင်ရာတာဝန်ယူမှုများ (Corporate Social Responsibility - CSR) အနေဖြင့် နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ထမ်းဆောင်ပြီးနောက်ကျန်ရှိသော အသားတင် အမြတ်၏ ၂% ကို အောက်ဖော်ပြပါလုပ်ဆောင်ချက်များ ဆောင်ရွက်ရန် စီစဉ်ဆောင်ရွက်လျက် ရှိပါကြောင်း တင်ပြအပ်ပါသည်။

(က) ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် ဆေးကုသစရိတ်နှင့် ကျန်းမာရေးဆိုင်ရာစောင့်ရှောက်မှုများ ပံ့ပိုးကူညီပေးခြင်း။ (၅၀%)

(ခ) စက်ရုံတည်ရှိရာ အနီးအနားပတ်ဝန်းကျင်ရှိ ရပ်ကွက်သာယာလုံခြုံရေးနှင့် အန္တရာယ်မရှိစေရန် လိုအပ်သည်များကိုဝိုင်းဝန်း၍ ပံ့ပိုးကူညီပေးခြင်း။ (၅၀%)

**STELLAR STAR COMPANY LIMITED**

Plot No.56, Myay Taing Block No.42, Corner of Sat Hmu (2) Street and Ingyin Myaing Street,
Shwe Pyi Thar Industrial Zone (1), Shwe Pyi Thar Tsp., Yangon Region. Tel: 95-9-7954 06733

၃။ သို့ဖြစ်ပါ၍ ကျွန်မတို့ကုမ္ပဏီနှင့်အတူ ပူးပေါင်းဆောင်ရွက်ပေးခြင်းကို ကျေးဇူးအထူးပင်တင်ရှိပြီး ကျွန်မတို့ "**စတယ်လာစတား ကုမ္ပဏီ လီမိတက်**" "STELLAR STAR CO., LTD." ၏ ဆောင်ရွက်မှုလုပ်ငန်းများဆိုင်ရာ ဆောင်ရွက်ခွင့် Permit ကို ဆောလျှင်စွာ ခွင့်ပြုပေးပါရန် မေတ္တာရပ်ခံ တင်ပြအပ်ပါသည်။

ရှိသေလေးစားစွာဖြင့်
လျှောက်ထားသူ

**ဒေါ်ခင်ခင်ချို**
မန်နေးဂျင်းဒါရိုက်တာ
**စတယ်လာစတား ကုမ္ပဏီ လီမိတက်**

**STELLAR STAR COMPANY LIMITED**

Plot No.56, Myay Taing Block No.42, Corner of Sat Hmu (2) Street and Ingyin Myaing Street,
Shwe Pyi Thar Industrial Zone (1), Shwe Pyi Thar Tsp., Yangon Region. Tel: 95-9-7954 06733

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ် (၁) ၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၅ ခုနှစ်၊ ဇူလိုင် လ (၁၄)ရက်။

အကြောင်းအရာ။ **။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုကာလအား အဆိုပြုတင်ပြခြင်း။**

လေးစားရပါသောလူကြီးမင်းရှင့် ။ ။

၁။ ကျွန်မတို့၏ **"စတယ်လာစတား ကုမ္ပဏီ လီမိတက်"** "STELLAR STAR CO., LTD." သည် ရန်ကုန်တိုင်း ဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန် (၁)၊ စက်မှု (၂) လမ်း နှင့် အင်ကြင်းမြိုင်လမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂)၊ မြေကွက်အမှတ် (၅၆) ၏ ဧရိယာ (၁.၃၆၄ ဧက) အကျယ်အဝန်း မြေကွက်ပေါ်ရှိ စက်ရုံတွင် "ပလပ်စတစ်အိတ်အမျိုးမျိုး" ထုတ်လုပ်သောလုပ်ငန်း (Industry for Manufacturing the Variety of Plastic Bags) ကို ပြည်ပမှ ကုန်ကြမ်းပစ္စည်းများတင်သွင်း၍ (CMP) လက်ခစားစနစ်ဖြင့်ထုတ်လုပ်ပြီး နိုင်ငံခြားသို့ ပြန်လည်တင်ပို့နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့ တင်ပြလျှောက်ထား သောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ထိုသို့လျှောက်ထားခဲ့သော ကျွန်မတို့ ကုမ္ပဏီ၏ အဆိုပြုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကနဦးအနေဖြင့် နှစ်(၅၀) နှစ်ရှည်လုပ်ကိုင်ခွင့်ပြုပါရန် လေးစားစွာတင်ပြလျှောက်ထားအပ်ပါသည်။ သက်တမ်း ထပ်မံတိုးမြှင့်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆက်လက်တိုးမြှင့်ပါမည်ဟုလည်း တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

**ဒေါ်ခင်ခင်ချို**
မန်နေးဂျင်းဒါရိုက်တာ
**စတယ်လာစတား ကုမ္ပဏီ လီမိတက်**

# STELLAR STAR COMPANY LIMITED

Plot No.56, Myay Taing Block No.42, Corner of Sat Hmu (2) Street and Ingyin Myaing Street,
Shwe Pyi Thar Industrial Zone (1), Shwe Pyi Thar Tsp., Yangon Region. Tel: 95-9-7954 06733


---

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။ ၂၀၁၅ခုနှစ်၊ စက်တင်ဘာလ (၄) ရက်

အကြောင်းအရာ။ ။<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပတ်ဝန်းကျင်ဆိုင်ရာ ဆောင်ရွက်မှုများအား တင်ပြခြင်း။</u>

လေးစားရပါသောလူကြီးမင်းရှင့် ။ ။

၁။ ကျွန်မတို့၏ "**စတယ်လာစတား ကုမ္ပဏီ လီမိတက်**" "STELLAR STAR CO., LTD." သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန် (၁)၊ စက်မှု (၂) လမ်း နှင့် အင်ကြင်းမြိုင်လမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ် (၄၂)၊ မြေကွက်အမှတ် (၅၆) ၏ ဧရိယာ (၁.၃၆၄ ဧက) အကျယ်အဝန်း မြေကွက်ပေါ်ရှိ စက်ရုံတွင် "ပလပ်စတစ်အိတ်အမျိုးမျိုး" ထုတ်လုပ်သောလုပ်ငန်း (Industry for Manufacturing the Variety of Plastic Bags) ကို ပြည်ပမှ ကုန်ကြမ်းပစ္စည်းများတင်သွင်း၍ (CMP) လက်ခစားစနစ်ဖြင့်ထုတ်လုပ်ပြီး နိုင်ငံခြားသို့ ပြန်လည်တင်ပို့နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့ တင်ပြလျှောက်ထား သောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကျွန်မတို့ ကုမ္ပဏီအနေဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ လမ်းညွှန်ချက်အရ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေရန် ဆောင်ရွက်မည် ဖြစ်ပါသည်။ စွန့်ပစ်ပစ္စည်းများစွန့်ပစ်မှုနှင့် စပ်လျဉ်း၍လည်း စနစ်တကျဆောင်ရွက်ထားရှိမည်ဖြစ်ပါသည်။ ထို့ပြင် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) နှင့်အတူ ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan-EMP) ဆောင်ရွက်ရန်အတွက်လည်း E Guard Environmental Services Co., Ltd. နှင့် စာချုပ်ချုပ်ဆိုကာ လုပ်ငန်းစတင်ဆောင်ရွက် လျက်ရှိပါသည်။ E Guard Environmental Services Co., Ltd. ၏ အကြောင်းကြားစာအား ပူးတွဲတင်ပြအပ်ပါသည်။

# STELLAR STAR COMPANY LIMITED

Plot No.56, Myay Taing Block No.42, Corner of Sat Hmu (2) Street and Ingyin Myaing Street,
Shwe Pyi Thar Industrial Zone (1), Shwe Pyi Thar Tsp., Yangon Region. Tel: 95-9-7954 06733


---

၃။ သို့ဖြစ်ပါ၍ အထက်ဖော်ပြပါ စီမံချက်များအား စီစဉ်ဆောင်ရွက်ပြီးစီးပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ပြန်လည်တင်ပြသွားမည် ဖြစ်ပါသည်။ ထို့ ပြင် နောက်နောင်တွင်လည်းပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ စည်းမျဉ်းစည်းကမ်းများ နှင့်အညီ ညွှန်ကြားချက်များအားလည်း လိုက်နာဆောင်ရွက် ပါမည်ဟု ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

(signature)

**ဒေါ် ခင်ခင်ချို**
မန်နေးဂျင်းဒါရိုက်တာ
**စတယ်လာစတား ကုမ္ပဏီ လီမိတက်**

**E Guard Environmental Services Company Limited**
No.99, MyaKanThar Lane, NyeinChanYay Street, 10 Miles, Pyay Road, Sawbwargyigone Quarter,
Insein Township, Yangon 11011, the Republic of the Union of Myanmar.
Tel: 95 1 667953, 95 9 421108946, Email info@eguardservices.com www.eguardservices.com

သို့

ဒေါ်ခင်ခင်ရီ
Managing Director
Stellar Star Co., Ltd

စာအမှတ်။ ။ 298/ E Guard /SSC/ 2015
ရက်စွဲ။ ။ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ၊ (၅) ရက်၊

အကြောင်းအရာ ။ ။ လုပ်ငန်းစတင်ဆောင်ရွက်နေပြီဖြစ်ကြောင်း တင်ပြခြင်း၊

၁။ Stellar Star Co., Ltd နှင့် E Guard Environmental Services Co., Ltd. တို့ ၂၀၁၅ခုနှစ်၊ဇူလိုင်လ၊ (၃၀)ရက်နေ့တွင် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန်(၁)၊ စက်မှု(၂)လမ်းနှင့် အင်ကြင်းမြိုင်လမ်းထောင့်၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ်(၅၆)ရှိ မြေဧရိယာ(၁.၃၆၄)ဧကတွင် ပလပ်စတစ်အိတ်အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းအတွက် လိုအပ်သော ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲရန်စာချုပ်ချုပ်ဆိုခဲ့ကြပါသည်။

၂။ အဆိုပါဆန်းစစ်ခြင်းလုပ်ငန်းများအား ၂၀၁၅ခုနှစ်၊ ဩဂုတ်လ၊ (၃)ရက်နေ့တွင်စတင်ဆောင်ရွက်နေပြီ ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

**Aye Thiha**
**Managing Director**
**E Guard Environmental Services**

